အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စိုကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မဘည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးအောင်သက်မန်း<br>အမှတ်(၁၀၃/၇)၊ အောင်မြေသာလမ်း၊<br>ရွှေတောင်ကြား(၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊<br>ရန်ကုန်တိုင်းဒေသကြီး။<br>( ကုန်သည် ) | မြန်မာ<br>၇/သတန (နိုင်)<br>-၀၇၈၈၄၂ | ၂၅၀ | |
| ၂။ | ဦးပြည့်စုံဟိန်းဆွေ<br>အမှတ်(၀၇၅)၊ ဗုတိယထပ်(ညာ)၊ (၄၀)လမ်း၊<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊<br>( ကုန်သည် ) | မြန်မာ<br>၁၂/ကတတ (နိုင်)<br>-၀၂၇၉၂၉ | ၂၅၀ | |

မြို့။ နေ့စွဲ၊ -ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။



မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# အထွက်အထိုပ် ရေနံဓါတု ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍အောက်ပါသတ်မှတ်ချက်များသည် အတိုင်းသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကိုငါးဆယ် အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့် ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၁,၀၀၀,၀၀၀,၀၀၀ /-(ကျပ် သန်းတစ်ထောင် တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀ /-(ကျပ် တစ်သိန်း တိတိ) တန် အစုရှယ်ယာဝေါင်း ( ၁၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေတို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လတ်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၍ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင် နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များတို့ မထိခိုက်စေလျက် အစုရှယ်ယာများသည်ဒါရိုက်တာ များ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ရင်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများတို့ ခွဲဝေချထားခြင်း၊ သို့မဟုတ် ထုခွဲရောင်း ချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အသွေးသွေးမှန်နေရာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က လက်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်းသို့မဟုတ်ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများကသတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း။ ( ၁၉ )ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် -

( ၁ ) ဦးအောင်သက်မန်း . . . . နှင့်
( ၂ ) ဦးပြည့်စုံဟိန်းဆွေ တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သောသတ်မှတ်ချက်များ၊ညွှန်ကြားချက်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့ကပေးအပ်သောအာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး ( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန်အနည်းဆုံးဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင်မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေဂျင်း ဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရုပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီ အပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေး ခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေး များအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်၊

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံ ပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပါပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ် များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

၁၃) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး ကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာ များတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီး နှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်း ထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက် သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မှီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မှီသူများ အား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီ ထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉ ။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများသို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၁။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများ နှင့် လိုက်လျောညီထွေဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို **ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး** ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီးတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးအောင်သက်မန်း<br>အမှတ်(၁၀၃/၇)၊ အောင်မြေသာလမ်း၊<br>ရွှေတောင်ကြား(၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊<br>ရန်ကုန်တိုင်းဒေသကြီး။<br>( ကုန်သည် ) | မြန်မာ<br>၇/သကန (နိုင်)<br>-၀၇၈၈၄၂ | ၂၅၀ | |
| ၂။ | ဦးပြည့်စုံဟိန်းဆွေ<br>အမှတ်(၁၇၅)၊ ဓုတိယထပ်(ညာ)၊ (၄၀)လမ်း၊<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။<br>( ကုန်သည် ) | မြန်မာ<br>၁၂/တတတ (နိုင်)<br>-၀၂၇၉၂၉ | ၂၅၀ | |

မြို့။ နေ့စွဲ၊ ခုနှစ်၊ လ၊ ရက်။



အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# ELITE PETROCHEMICAL COMPANY LIMITED.



I. The name of the Company is **ELITE PETROCHEMICAL COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks **1,000,000,000** /- ( Kyats **One Thousand Million** Only ) divided into ( **10,000** ) shares of Ks. **100,000** /- ( Kyats **One Hundred Thousand** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

To carry on the following services either solely on its own or in joint-venture, with any foreign or local partners -

(a) All kinds of agency business, technical consultants, business consultants, management consultants and advisory services.

(b) Advertising and its agency business.

(c) Business of entertainments and related activities.

(d) Business of all kinds of medical services.

(e) Business of transportation (except railways and airways)

(f) Business of printing and publishing.

(g) Business of surveying and inspection.

(h) Business of feasibility study on new projects, projects formulation, project appraisal and project evaluation.

(i) Business of Account writing, Auditing and legal advisory services.

(j) Business of servicing, maintenance of repairing of all kinds of vehicles and machines.

(k) Business of installation, maintenance and renovation of electrical and electronic goods.

2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:*** - *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | **U Aung Thet Mann**<br>**No.(103/7), Aung Myay Thar Street, Shwe Taung Kyar (1) Ward, Bahan Township, Yangon.**<br>**(Merchant)** | **Myanmar**<br>**7/Tha Ka Na (N) -078842** | **250** | |
| 2. | **U Pyae Sone Hein Swe**<br>**No.(275), Second Floor (Right), (40) Street, Kyauktada Township, Yangon.**<br>**(Merchant)** | **Myanmar**<br>**12/ Ka Ta Ta (N) -027929** | **250** | |

Township. Dated the day of ,

*It is hereby certified that the persons mentioned above put their signatures in my presence.*



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# ELITE PETROCHEMICAL COMPANY LIMITED.



The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the folowing Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to applyy to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the emplooyment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. **1,000,000,000 /-** ( Kyats **One Thousand Million** only ) divided into ( **10,000** ) shares of **K 100,000** /- (Kyats **One Hundred Thousand** Only) each, with power in General Meeting either to mcrease, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or derstroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to eevidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the timesand places appointed by the Direcors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 19 ).

The First Directors shall be:-

(1) U Aung Thet Mann ...and
(2) U Pyae Sone Hein Swe.

The Directors may from time to time appoint one of their body to the offce of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall from a quorum. If any question arising an any meeting the Managing Director's decision shall be final. When an matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

3. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debentures stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes zreceipts,endorsements,releases, contracts and documents for or on behalf of the Company.

(14) To invest,place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future )as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceeding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits .

## OFFICE STAFF

17. The Company shall maintain an office establisment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-
    - *(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*
    - *(2) all sales and purchases of goods by the Company ;*
    - *(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | **U Aung Thet Mann**<br>**No.(103/7), Aung Myay Thar Street, Shwe Taung Kyar (1) Ward, Bahan Township, Yangon.**<br>**(Merchant)** | **Myanmar**<br>**7/Tha Ka Na**<br>**(N) -078842** | **250** | |
| 2. | **U Pyae Sone Hein Swe**<br>**No.(275), Second Floor (Right), (40) Street, Kyauktada Township, Yangon.**<br>**(Merchant)** | **Myanmar**<br>**12/ Ka Ta Ta**<br>**(N) -027929** | **250** | |

Township. Dated the day of ,

*It is hereby certified that the persons mentioned above put their signatures in my presence.*



၁၃။ သဘောထားမှတ်ချက်များ

- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်
- သတ္တုတွင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်
- စွမ်းအင်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်
- မီးသတ်ဦးစီးဌာန၏ သဘောထားမှတ်ချက်

စာအမှတ်၊ ၂ / ၃ - ၁၇ (၂) / စီးပွား
ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၉-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၁၈၂/၂၀၁၁ (၉၇၃၄-ဆ)

၁။ အထွတ်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက် (Elite Petrochemical Co.,Ltd)က မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စုစုပေါင်းမြေအကျယ်အဝန်း(၄၉. ၄၂)ဧကရှိသော သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်- ၁၅၊ ၁၆ (အေ၊ ဘီ)၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေတွင် BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်သည့်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်းသဘောထား မှတ်ချက်တင်ပြအပ်ပါသည် -

(က) အဆိုပြုတင်ပြသည့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုခြင်းဖြင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါမည်။

(ခ) အဆိုပြုမြေနေရာတွင် လုပ်ငန်းဆောင်ရွက်သင့်ပြီး လက်ရှိတွင် ၎င်းမြေနေရာအား သဲမှုတ်တင်၍ မြေပြုပြင်ခြင်း၊ ခြံစည်းရိုးခတ်ခြင်းများ ဆောင်ရွက်လျက်ရှိပါသည်။

(ဂ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေးအတွက် စွန့်ထုတ်ရေ အရည်အသွေး(Sewage Quality)ကို စနစ်တကျတွက်ချက်၍ စွန့်ထုတ်ရေသန့်စင်စက်ရုံ(Sewage Treatment Plant) ထည့်သွင်းတည်ဆောက်ကာ နိုင်ငံတကာသတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ သန့်စင်ဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၁၄-၁၁-၂၀၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၂/၂၀၁၁)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၀)အရ အထွတ်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက် (Elite Petrochemical Co.,Ltd)၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

တိုင်းဒေသကြီးဝန်ကြီး၊ သစ်တောနှင့်စွမ်းအင်ဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ကျောက်တန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
√အထွတ်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၅၇ - ခွဲ (၃) ၁၁ (၅၅၃၃)
ရက်စွဲ၊ ၂၀၁၁ ခုနှစ် အောက်တိုဘာလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၉-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက-မ(တ)/ မ-၁၁၈၂/၂၀၁၁(၉၇၃၄-ဃ)

၁။ ရည်ညွှန်းစာပါ အကြောင်းအရာ တိုစ္စနှင့်ပတ်သက်၍ အထွင်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက်မှ ဓာတ်ဆီမြေပေါ်သိုလှောင်ကန်(၂)လုံးနှင့် ဒီဇယ်ဆီ မြေပေါ်သိုလှောင်ကန်(၆)လုံးတို့အား တည်ဆောက် သိုလှောင်သွားမည်ဖြစ်ရာ မြေပေါ်သိုလှောင်ခွင့် "L" လိုင်စင်ပါ ကန့်သတ်ချက်များအရ ဂါလန်(၁)သိန်းအထက် သိုလှောင်ကန်များဖြစ်သည့်အတွက် သိုလှောင်တန် တစ်ကန်နှင့်တစ်တန်ကြားတွင် ဘေးကင်းမှု အကွာအဝေး (၁၀၀)ပေခွာ၍ တည်ဆောက်ရန်နှင့် ပေ(၁၀၀)ထက်နီးတစ်စွာ တည်ဆောက်မည်ဆိုပါက သိုလှောင်ကန် နှစ်ကန် ကြားတွင် မီးတားနံရံ (Fire Screen Wall) အား ပို၍အမြင့်ရှိသည့် သိုလှောင်ကန်၏ အမြင့်အတိုင်း ကာရံပေးရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၂။ သို့ဖြစ်ပါ၍ အထွင်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာပါစာအရ စက်သုံးဆီမြေပေါ်သိုလှောင်ကန် (၈)လုံး တည်ဆောက်ရာတွင် အပိုဒ်(၁)ပါ "L" လိုင်စင် ကန့်သတ်ချက်များအတိုင်း တည်ဆောက်မည်ဆိုပါက သတ္တုတွင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
( မင်းမင်းဦး၊ ရုံးအဖွဲ့မှူး )



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ Pipeline Project / ၈ /(        )
ရက်စွဲ၊ ၂၀၁၁ခုနှစ် ၊စက်တင်ဘာလ ၂၉ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်း**

ရည်ညွှန်းချက် ။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၉-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၁၈၂/၂၀၁၁ (၉၇၃၄-၀)
(၂) အထွဋ်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) မှတင်ပြစာ

၁။ အထွဋ်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက်(Elite Petrochemical Co., Ltd.) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စုစုပေါင်းမြေအကျယ်အဝန်း(၄၉.၄၂)ဧကရှိသောရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်-၁၅၊၁၆(စ) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေတွင် B.O.T စနစ်ဖြင့်ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအားသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ရည်ညွှန်းချက်(၁)ပါ စာဖြင့် အောက်ပါသဘောထားမှတ်ချက်များ ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံလာခဲ့ပါသည်-

(က) စက်သုံးဆီရောင်းချမည့်ဈေးနှုန်းများတင်ပြထားမှုသည် ဆီလျော်မှုရှိ-မရှိ၊
(ခ) ပြည်ပမှတင်သွင်းလာမည့်ကုန်ချော(စက်သုံးဆီ)ပမာဏ ဆီလျော်မှုရှိ-မရှိ၊
(ဂ) သဘောထားနှင့်အကြံပြုချက်များ။

၂။ အထက်အပိုဒ်(၁)ပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တောင်းခံလာသည့် သဘောထားမှတ်ချက်နှင့်စပ်လျဉ်း၍ ရည်ညွှန်းချက်(၂)ပါ အထွဋ်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.)၏ အဆိုပြုတင်ပြချက်တွင် စက်သုံးဆီရောင်းချမည့်ဈေးနှုန်းများ တင်ပြထားမှုမပါရှိပါသဖြင့် လိုအပ်သည့် အချက်အလက်များပေးပို့ပါရန်နှင့် Income တွက်ချက်ရာတွင်လည်း Port and Storage Income များကို လုံးပေါင်းဖြင့်ဖော်ပြထားသဖြင့် Port and Storage Income များအတွက် နှစ်အလိုက်လက်ခံဆောင်ရွက်မည့် စက်သုံးဆီပမာဏနှင့် ကောက်ခံမည့်နှုန်းထားကို အသေးစိတ်တွက်ချက်မှုနှင့်တကွ ရှင်းလင်းချက်များပေးပို့ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
( ဝင်းမြင့်မော်၊ ညွှန်ကြားရေးမှူး )

အထွဋ်အထိပ်ရေနံဓာတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.)

မိတ္တူကို-
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

Aliza\Abode\.H(28-9-2011)

ELITE PETROCHEMICAL COMPANY LIMITED
..., Pyay Road, Hlaing Township, Yangon, Myanmar ...
Tel: (951) 502629, 502692, E-mail: htc3@htoo...


စာအမှတ်၊ ၀15 / EP(ODP)-01 /2011
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ( ၄ )ရက်

သို့

ပြည်ထောင်စုဝန်ကြီး
စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **စက်သုံးဆီ တင်/ချဆိပ်ခံတံတားနှင့် ဆီသိုလှောင်တန်များ တည်ဆောက်၍ စက်သုံးဆီများ သိုလှောင်သည့်ဝန်ဆောင်မှု လုပ်ငန်းနှင့် ပတ်သတ်သည့်အချက်အလက်များ တင်ပြခြင်း**

ရည်ညွှန်းချက် ။ စွမ်းအင်ဝန်ကြီးဌာန၏ (၂၉-၉-၂၀၁၁)ရက်စွဲပါ စာအမှတ် Pipeline Project / စ / ( )

၁။ အထက်ဖော်ပြပါကိစ္စနှင့် ပတ်သက်၍ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ စုစုပေါင်း မြေအကျယ်အဝန်း (၄၉.၄၂)ဧကရှိသော ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် - ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် - ၁၅၊ ၁၆ (အေ/ဘီ)၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေတွင် BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိရန် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုကဲ့သို့ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိရေးအတွက် တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခြင်းအပေါ် စွမ်းအင်ဝန်ကြီးဌာနမှ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) ၏ အဆိုပြုတင်ပြချက်တွင် ပါဝင်ခြင်းမရှိသည့် ရည်ညွှန်းချက် အပိုဒ်(၂)ပါအချက်အလက်များ နှင့်ပတ်သက်၍ အောက်ပါအတိုင်းရှင်းလင်း တင်ပြအပ်ပါသည် -

(က) အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.)သည် အဆိုပြု တင်ပြထားသည့်လုပ်ငန်းတွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များတည်ဆောက်၍ ဆီသိုလှောင် သယ်ပို့သည့်လုပ်ငန်း၊ ဆိပ်ကမ်း ဝန်ဆောင်မှုလုပ်ငန်းများကိုသာ ဆောင်ရွက်မည်ဖြစ်ပါ၍ စက်သုံးဆီရောင်းချမည့် ဈေးနှုန်းများ တင်ပြရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

(ခ) Income တွက်ချက်ရာတွင် Port and Storage Income များအတွက် နှစ်အလိုက်ဆိပ်ကမ်းကို ဖြတ်သန်းမည့် စက်သုံးဆီပမာဏနှင့် ရရှိနိုင်မည့် ဝင်ငွေကို ကောက်ခံမည့်နှုန်းထားနှင့် အသေးစိတ်တွက်ချက်မှုများအား ပူးတွဲလျက် ဖော်ပြအပ်ပါသည်။

လေးစားစွာဖြင့်

အောင်သက်မန်း
မန်နေဂျင်းဒါရိုက်တာ

မိတ္တူ -
- ဒုတိယဝန်ကြီး၊ စွမ်းအင်ဝန်ကြီးဌာန။
- ညွှန်ကြားရေးမှူးချုပ်၊ စွမ်းအင်စီမံရေးဦးစီးဌာန၊ စွမ်းအင်ဝန်ကြီးဌာန။
- ရုံးလက်ခံ

Elite Petrochemical

ELITE PETROCHEMICAL COMPANY LI[illegible]

No. 5, Pyay Road, Hlaing Township, Yangon, Myanmar. Tel: (95-1) 500344, 500355, 502627, 5044
Fax: (951) 502629, 502692, E-mail: htc3@htootrading.com.mm

စာအမှတ်၊ ၀11 / EP(ODP)-01 /2011
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ (၄ )ရက်

သို့

ပြည်ထောင်စုဝန်ကြီး
စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ သဘောထားမှတ်ချက် ချမှတ်ပေးပါရန် တင်ပြခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄-၉-၂၀၁၁)ရက်စွဲပါ စာအမှတ် ၇က-၆(က)/မ-၁၁၈၂/၂၀၁၁(၉၇၃၄-င)

၁။ အထက်ဖော်ပြပါကိစ္စနှင့် ပတ်သက်၍ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ စုစုပေါင်း မြေအကျယ်အဝန်း (၄၉. ၄၂)ဧကရှိသော ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင် - ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် - ၁၅၊ ၁၆ (အေ/ဘီ)၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေတွင် BOT စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိရန် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုကဲ့သို့ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိရေးအတွက် တင်ပြလျှောက်ထားရာတွင် စွမ်းအင်ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များ ရယူဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် လမ်းညွှန်မှုပြုခဲ့ပါ၍ သဘောထားမှတ်ချက်များ ရယူခွင့်ပြုပါရန် လေးစားစွာဖြင့် အစီရင်ခံ တင်ပြအပ်ပါသည်။

ပူးတွဲလျက် -

(၁) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းဆောင်ရွက်မှု တင်ပြချက်
(၂) မီးဘေးအန္တရာယ်ကာကွယ်ဆောင်ရွက်ထားရှိမှု တင်ပြချက်

လေးစားစွာဖြင့်

အောင်သက်မန်း
မန်နေဂျင်းဒါရိုက်တာ

မိတ္တူ -

- ညွှန်ကြားရေးမှူးချုပ်၊ စွမ်းအင်စီမံရေးဦးစီးဌာန
  စွမ်းအင်ဝန်ကြီးဌာန။
- ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူမှုဝန်ထမ်း၊ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
မီးသတ်ဦးစီးဌာန

စာအမှတ်၊ ၁၀၄ / ၁၀၀ / ၂၈ / ဦး ၁
ရက် စွဲ ၊၂၀၁၂ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက်

အကြောင်းအရာ။ **E-Lite Petrochemical Co., Ltdမှ သီလဝါစက်မှုဇုန်အတွင်း ဓါတ်ဆီ၊ ဒီဇယ်ဆီ၊ သိုလှောင်ကန်များတည်ဆောက်ခြင်းနှင့်ပတ်သက်၍အကြံပြုချက်များ ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ E-Lite Petrochemical Co., Ltd ၏ (၄.၁၀.၂၀၁၂)ရက်စွဲပါစာအမှတ်၊ E-Lite Petro / Thilawa / 035 / 2012

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ E-Lite Petrochemical Co., Ltd မှ သီလဝါစက်မှုဇုန်အတွင်း ဓါတ်ဆီ၊ဒီဇယ်ဆီ သိုလှောင်ကန်များ တည်ဆောက်ခြင်းနှင့်ပတ်သက်၍ မီးငြိမ်းသတ်ရေးနှင့် မီးဘေးကြိုတင်ကာကွယ်ရေးဆိုင်ရာ အကြံပြုချက်များကို ပူးတွဲပေးပို့ပါသည်။

၂။ အဆိုပါအကြံပြုချက်များအတိုင်း မီးဘေးကြိုတင်ကာကွယ်ရေးစနစ်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက မီးသတ်ဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

၃။ ဖော်ပြပါ မီးဘေးကြိုတင်ကာကွယ်ရေး စစ်ဆေးထောက်ခံချက်ပေးပြီးနောက် မီးသတ်ဦးစီးဌာနမှ အခါအားလျော်စွာ ပြန်လည်စစ်ဆေးရာ၌ အကြံပြုချက်များအတိုင်း မီးဘေးကြိုတင်ကာကွယ်ရေးစနစ်များအား လိုက်နာဆောင်ရွက်ခြင်းမရှိပါက မီးဘေးကြိုတင်ကာကွယ်ရေး စစ်ဆေးထောက်ခံချက်ကို ပြန်လည်ရုပ်သိမ်းပါမည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဦးသင်းဌေးရွှေ၊ ညွှန်ကြားရေးမှူး)

မန်နေဂျင်းဒါရိုက်တာ
သီလဝါစက်မှုဇုန်ဆီသိုလှောင်ကန်တည်ဆောက်ရေးစီမံကိန်း
E-Lite Petrochemical Co., Ltd

မိတ္တူ

ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန၊ နေပြည်တော်၊
အမှတ်(၂)ပြည်နယ်/တိုင်းဒေသကြီးမီးသတ်ဦးစီးရုံးများကွပ်ကဲမှုဌာနခွဲ၊
ရန်ကုန်တိုင်းဒေသကြီးမီးသတ်ဦးစီးဌာနမှူးရုံး၊
သီးသန့်စာတွဲ/မျှောစာတွဲ/လက်ခံစာတွဲ။

ELITE PETROCHEMICAL CO., LTD.
Petrochemical
No. (3), Pyay Road, Hlaing Township, Yangon, Myanmar.
Phone :: (+95-1) 500 344, 500 355, 502 627, 501 566,
504 418, 501 558, 501 565, 501 835
Fax :: (+95-1) 537 591, 501 858

စာအမှတ်၊ Elite Petro/Thilawa/247 /2012


ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ (၂၈) ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
နေပြည်တော်၊

အကြောင်းအရာ။ အထွက်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co.,Ltd.) မှ သီလဝါဆိပ်ကမ်းဒေသ၊မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက် အမှတ် ၁၅၊၁၆ (အေနှင့်ဘီ) တွင်ဆောင်ရွက်လျှက်ရှိသည့် စက်သုံးဆီ တင်/ချဆိပ်ခံတံတားနှင့်ဆီသိုလှောင်ကန်များ တည်ဆောက် ကာ၊စက်သုံး ဆီများအားသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင် ရွက်ရာတွင်၊ သဘာဝပတ်ဝန်းကျင်အပေါ် အကျိုး သက်ရောက်မှုများ လေ့လာဆန်းစစ် ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာအား တင်ပြခြင်း။

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၁-၂၀၁၂ ရက်စွဲပါ၊ စာအမှတ် ၇တ-၆(က)/မ-၀၁၈၂/၂၀၁၂ (၇၁၅-တ)
(၂) Elite Petrochemical Co.,Ltd. ၏ ၁၇-၅-၂၀၁၂ ရက်စွဲပါ၊ စာအမှတ် Elite Petro/Thilawa/026/2012

၁။ အထက်ဖော်ပြပါကိစ္စနှင့် ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊သံလျှင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် ၁၅၊ ၁၆ (အေနှင့်ဘီ) တွင် Elite Petrochemical Co.,Ltd. မှ စက်သုံးဆီတင်/ချဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်းကို ဆောင်ရွက်လျှက်ရှိရာ၊ သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများအား လေ့လာဆန်းစစ်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏လမ်းညွှန်မှုအရလည်းကောင်း၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏လမ်းညွှန်မှုအရလည်းကောင်း၊ မြန်မာနိုင်ငံပြည်တွင်းမှ Biodiversity And Nature Conservation Association(BANCA) သို့လုပ်ငန်းအပ်နှံလျှက် သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများလေ့လာဆန်းစစ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ခဲ့ရာ Interim Report of EIA on Thilawa Oil Storage Facility အားရည်ညွှန်းချက် (၂) ပါစာဖြင့် တင်ပြခဲ့ပါသည်၊

00051

၂။ BANCA အဖွဲ့မှ သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများကို ဆက်လက်လေ့လာဆောင်ရွက်ခဲ့ပြီး ၂၀၀၂ ခုနှစ် ဩဂုတ်လတွင် ENVIRONMENTAL IMPACT ASSESSMENT on 100,000$m^3$ Refined Oil Tank Farm, Thilawa, Yangon အစီရင်ခံစာအား ပြုစုတင်ပြခဲ့ပါ၍ ဆောင်ရွက်ထားရှိမှုအခြေအနေများအား သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များ ထပ်မံညွှန်ကြားနိုင်ပါရန် အစီရင်ခံစာအား ပူးတွဲလျှက် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



အောင်သက်မန်း
မန်နေဂျင်းဒါရိုက်တာ

မိတ္တူ -

- ညွှန်ကြားရေးမှူးချုပ်
  သစ်တောဦးစီးဌာန
- ညွှန်ကြားရေးမှူး
  သစ်တောဦးစီးဌာန
  ရန်ကုန်တိုင်းဒေသကြီး
- ရုံးလက်ခံ

စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်၍ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းဆောင်ရွက်မှု တင်ပြချက်

**နိဒါန်း**

၁။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး သန်လျင် - ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ အကွက်အမှတ် ၁၅၊ ၁၆ (အေနှင့်ဘီ)တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထား ဆောင်ရွက်လျက်ရှိပါသည်။

**ရည်ရွယ်ချက်**

၂။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) **အနေဖြင့် နိုင်ငံတော်မှ စက်သုံးဆီသိုလှောင်** ဖြန့်ဖြူးခြင်းလုပ်ငန်းအား တိုင်းရင်းသားလုပ်ငန်းရှင်များသို့ လုပ်ဆောင်ခွင့်ပြုသည့်အတွက် တစ်တပ်တစ်အား ပါဝင်ဆောင်ရွက်ရန်ဖြစ်ပါသည်။

**တည်ဆောက်ရေးလုပ်ငန်းများ**

၃။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် ၁၅၊ ၁၆ (အေနှင့်ဘီ)ကို BOT စနစ်ဖြင့် ငှားရမ်း၍ အောက်ပါတို့ကို တည်ဆောက်အကောင်အထည်ဖော်မည် ဖြစ်ပါသည် -

(က) ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်း

(၁) ဂါလန် ၅.၂ သန်းဆန့် ဒီဇယ်ဆီသိုလှောင်ကန်(၄)လုံး
(၂) ဂါလန် ၁.၃ သန်းဆန့် ဒီဇယ်ဆီသိုလှောင်ကန်(၂)လုံး
(၃) ဂါလန် ၁.၃ သန်းဆန့် ဓါတ်ဆီသိုလှောင်ကန်(၂)လုံး

(ခ) စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ခြင်း

(၁) ပင်မဆိပ်ခံတံတား
- အလျား (၆၈)မီတာ x အကျယ်(၂၀)မီတာ
- ကြိုးချည်စင် (၁၀)မီတာ x (၁၀)မီတာ (၄)စင်
- **စုစုပေါင်းအလျား** (၂၁၀)မီတာ
- ဆိုက်ကပ်နိုင်သည့် ဆီတင်သင်္ဘောအရွယ်အစား တန်ချိန် ၂၀,၀၀၀

(၂) ချဉ်းကပ်တံတား
- အလျား ၁၂၀.၁၂ မီတာ x အကျယ် ၉ မီတာ

၄။ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်သည့် မြေကွက်အမှတ် ၁၅၊ ၁၆ မှာ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေဖြစ်၍၊ ဆိပ်ကမ်းဖွံ့ဖြိုးရန် ဆောင်ရွက်မည့် ဧရိယာဖြစ်ပါသည်။ အဆိုပါ မြေနေရာတွင် ရှေးဟောင်းဘုရား၊ ပုထိုး၊ ကျောင်းကန်များနှင့် ကင်းလွတ်သည့်နေရာဖြစ်သကဲ့သို့ လူနေကျေးရွာ၊ ရပ်ကွက်များနှင့် တသီးတခြား တည်ရှိသည့် ဧရိယာလည်းဖြစ်ပါသည်။

၅။ တည်ဆောက်ရေးလုပ်ငန်းများအနေဖြင့် ဆီသိုလှောင်ကန်များနှင့် ဆိပ်ခံတံတား တို့ကိုတည်ဆောက်မည်ဖြစ်ရာ၊ တည်ဆောက်ရေးလုပ်ငန်းများမှ တည်ဆောက်ရေးကာလအတွင်း ထွက်ရှိလာမည့်အမှိုက်များနှင့် စွန့်ပစ်ပစ္စည်းများတို့ကို သတ်မှတ်ထားသည့် စည်းမျဉ်းစည်းကမ်း များအတိုင်း စနစ်တကျ စွန့်ပစ်ဆောင်ရွက်မည်ဖြစ်ပါသည်။

၆။ တည်ဆောက်ရေးကာလအတွင်း အသုံးပြုသည့် စက်ယန္တရားနှင့် ယာဉ်များမှာ လည်း သတ်မှတ်လုပ်ငန်းခွင်အတွင်း စနစ်တကျ ထိန်းသိမ်းဆောင်ရွက်မည်ဖြစ်၍ ပတ်ဝန်းကျင် အတွက် အနှောက်အယှက် ကင်းရှင်းမည်ဖြစ်ပါသည်။

၇။ စက်သုံးဆီ သိုလှောင်ကန်ဧရိယာများနှင့် ဆိပ်ခံတံတားဧရိယာအတွင်း ရေစီး ရေလာကောင်းမွန်သည့် ရေထုတ်စနစ်များကို ထည့်သွင်းတည်ဆောက်မည်ဖြစ်၍၊ ရုံးအဆောက် အဦများ၊ စွန့်ထုတ်အညစ်အကြေးများ၊ ဆီသိုလှောင်ကန်ဧရိယာမှ ဆေးကြောသန့်စင်ရာတွင် ဆီပါဝင်သည့် စွန့်ထုတ်ရေများနှင့် အရေးပေါ်မီးငြိမ်းသတ်ရာမှ ထွက်ရှိလာသည့် စွန့်ထုတ်ရေ ပမာဏ (Sewage Quantity)၊ စွန့်ထုတ်ရေအရည်အသွေး (Sewage Quality) တို့ စနစ်တကျ တွက်ချက်၍ စွန့်ထုတ်ရေသန့်စင်စက်ရုံ (Sewage Treatment Plant) တို့ ထည့်သွင်းတည်ဆောက် ကာ အဆင့်ဆင့်စနစ်တကျ ဆောင်ရွက်မည့် အစီအမံများ ပါရှိပါသည်။

၈။ ဆီသိုလှောင်ကန်ဧရိယာမှ ဆီပါဝင်သည့် စွန့်ထုတ်ရေ (Oily Water) များကို ဆီစစ်ထုတ်ကန် (Oil Filter Pool) သို့ ပို့ဆောင်၍ အဆင့်ဆင့်စစ်ထုတ်မည်ဖြစ်ပြီး၊ နောက်ဆုံးတွင် လူသုံးအညစ်အကြေးရေများတို့ ပေါင်းစပ်၍ ရေညစ်သန့်စင်စက်ရုံ (Sewage Treatment Plant) သို့ ပို့ကာ၊ နိုင်ငံတကာ သတ်မှတ်စံချိန်စံညွှန်းများ နှင့်အညီ သန့်စင်ဆောင် ရွက်မည်ဖြစ်ပါသည်။

၉။ ဆီတင်/ချ ဆိပ်ခံတံတား (Jetty) မှ စွန့်ထုတ်ရေများကို ရေစုကန် (Water Collection Pool) တွင်းသို့ ပို့ဆောင်၍ ယင်းမှတဆင့် ရေစုပ်ပန့်ဖြင့် ပိုက်လိုင်း (Ballast Pipe) မှ တဆင့် ချဉ်းကပ်တံတားအခြေတွင်ရှိသည့် ဆီပါဝင်သည့် စွန့်ထုတ်ရေ ပိုက်လိုင်းစနစ်အတွင်းသို့ ပို့ဆောင်ကာ ယင်းမှတဖန် ပင်မ သန့်စင်စက်ရုံ (Tank Farm Sewage Treatment Plant) သို့ ပို့ဆောင်ကာ၊ အဆင့်ဆင့်စစ်ထုတ်ဖယ်ရှားပြီးနောက်၊ နိုင်ငံတကာသတ်မှတ် စံချိန်စံညွှန်းများ နှင့်အညီ သန့်စင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၁၀။ စွန့်ထုတ်ရေများကို သန့်စင်ဆောင်ရွက်ပုံအဆင့်ဆင့် (Process) ကို အောက်ပါ အတိုင်းဖော်ပြအပ်ပါသည် -

၁၁။ ရုံးအဆောက်အဦးများအတွင်းတွင်လည်း သန့်စင်ခန်းများ အလုံအလောက်ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ အဆောက်အဦးပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များ မရှိစေရေးအတွက် ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်တစိုက်ပြုလုပ်မည် ဖြစ်ပါသည်။

၁၂။ မီးဘေးအန္တရာယ်မကျရောက်စေရေးအတွက်လည်း ခေတ်မီနိုင်ငံတကာအဆင့်မီမီးကာကွယ်ရေးစနစ်များ၊ မီးငြိမ်းသတ်ရေးစနစ်များ၊ မီးဘေးအန္တရာယ်ကျရောက်ပါက ဆောင်ရွက်ရမည့်လုပ်ငန်းစဉ်များကိုပါ စနစ်တကျစီမံချက်များရေးဆွဲလျက် ဆောင်ရွက်မည်ဖြစ်ပါသည်။

၁၃။ ဆိပ်ကမ်းမျက်နှာစာ ဆိပ်ခံတံတားဘက်ပိုင်းတွင် အရိပ်ရအပင်များ၊ ပန်းအလှပင်များ၊ မြက်ခင်းများ စိုက်ပျိုးမည်ဖြစ်ပြီး၊ မြေကွက်ဧရိယာအတွင်း သင့်လျော်သည့် အရိပ်ရအပင်များ၊ ပန်းအလှအပင်များတို့အား စိမ်းလန်းစိုပြေရေးနှင့် ဆိပ်ကမ်းပသာဒကောင်းမွန်ရေးတို့အတွက် စီမံဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၁၄။ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များအတွက် ချဉ်းကပ်လမ်းများ စနစ်တကျဖောက်လုပ်ဆောင်ရွက်ထားသည်ဖြစ်ရာ၊ ပတ်ဝန်းကျင်ဒေသခံများအတွက် သွားလာရေးအဆင်ပြေလွယ်ကူ၍ စီးပွားရေး၊ ကျန်းမာရေး၊ ပညာရေး၊ လူမှုရေးကိစ္စများဖွံ့ဖြိုးလာမည်ဖြစ်သကဲ့သို့ အလုပ်အကိုင်အခွင့်အလမ်းများလည်း ပေါ်ပေါက်လာမည်ဖြစ်ပါသည်။

နိဂုံး

၁၅။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) အနေဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် ၁၅၊ ၁၆ (အေနှင့်ဘီ)တွင် ဆောင်ရွက်လျက်ရှိသည့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းထားရှိရေးအား တာဝန်တစ်ရပ်အဖြစ် ခံယူလျက် စဉ်ဆက်မပြတ် ဂရုတစိုက်ထိန်းသိမ်း ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။




ELITE PETROCHEMICAL COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar.

## ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း

"အထွတ်အထိပ် ရေနံဓါတု ကုမ္ပဏီလီမိတက်" (**Elite Petrochemical Co., Ltd.**) အနေဖြင့် **BOT** စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားတည်ဆောက်ခြင်းနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန်အတွက် စက်သုံးဆီအညစ်အကြေး (Oil Sewage) တို့အား ရေဖြင့်ဆေးကြောသန့်စင်၍ ထွက်ရှိလာသည့် ဆီအညစ်အကြေးများအား အညစ်အကြေးစုဆောင်းကန်တွင် သမအောင်ရောနှောမွှေနှောက်ပြီး၊ ဆီနှင့်အနယ်တို့အား ခွဲခြားပြီး၊ ဆီအချို့ကိုဖယ်ရှားမည်ဖြစ်ပါသည်။ ထို့နောက် ကျန်ရှိသည့် ဆီအညစ်အကြေးများအား Slant Board Filter ဖြင့် ဆီနှင့်ရေကို ထပ်မံခွဲခြားဆောင်ရွက်ပြီးနောက် အညစ်အကြေးများကို Air Floating Pool သို့ စီးဆင်းစေပြီး၊ **ကျန်ရှိနေသည့်ဆီများကို** Air Bubble Method ဖြင့် ထပ်မံဖယ်ရှား ဆောင်ရွက်မည်ဖြစ်ပါသည်။ ကျန်ရှိနေမည့် ဆီအညစ်အကြေးများကို Walnut Filter ဖြင့် ထပ်မံစစ်ထုတ်၍ ဆီများကို ဖယ်ရှားဆောင်ရွက်မည်ဖြစ်ပါသည်။ နောက်ဆုံးအဆင့် အနေ ဖြင့် ဆီအညစ်အကြေးများ အဆင့်ဆင့်ဖယ်ရှားပြီးသည့် ရေအား စမ်းသတ်စစ်ဆေးမည့် Monitoring Pool အတွင်းသို့ စီးဆင်းစေပြီး၊ သန့်စင်ဆောင်ရွက်ထားရှိသည့် ရေများအား သတ်မှတ်စံချိန်စံညွှန်းအတွင်း ရှိ/မရှိ သေချာစွာ စစ်ဆေးဆောင်ရွက်ပြီးနောက် စွန့်ထုတ်ရန် စနစ်တကျ စီမံဆောင်ရွက်သွားမည် ဖြစ်ပါသည်။

ထို့ပြင် အဆောက်အဦးများအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ အဆောက်အဦး ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များ မရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ကျွန်တော်တို့၏ အဆောက်အဦးများနှင့် ရုံးများပတ်ဝန်းကျင်တွင် ဆူညံမှု ဖြစ်ပေါ်မည် မဟုတ်ပဲ ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည် မဟုတ်ကြောင်းနှင့် အဆောက်အဦးများနှင့် ရုံးများအတွင်းမှ ထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျ စွန့်ပစ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီကချမှတ်ထားသော စည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာဆောင်ရွက် သွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးအောင်သက်မန်း
မန်နေဂျင်းဒါရိုက်တာ
အထွတ်အထိပ်ရေနံခါတု
ကုမ္ပဏီလီမိတက်

Process : -




နောက်ဆုံးအဆင့်ဖြစ်သည့် စစ်ဆေးစမ်းသပ်ကန် (Monitoring Pool) သို့ ရောက်ရှိလာသည့် စွန့်ထုတ်ရေများအား လိုအပ်သည့် ဓါတ်ခွဲစမ်းသပ်မှုများ ပြုလုပ်၍ စွန့်ထုတ်မည်ဖြစ်ပါသည်။

ELITE PETROCHEMICAL CO., LTD.
No. (5), Pyay Road, Hlaing Township, Yangon, Myanmar.
Phone :: (+95-1) 500 344, 500 355, 502 627, 501 566,
504 418, 501 558, 501 565, 501 855
Fax :: (+95-1) 537 591, 501 858

စာအမှတ်၊ Elite Petro/Thilawa/ 248 /2012
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ( ၂၈ )ရက်

သို့
ပြည်ထောင်စုဝန်ကြီး
ပို့ဆောင်ရေးဝန်ကြီးဌာန
နေပြည်တော်။

အကြောင်းအရာ။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမီတက် (Elite Petrochemical Co.,Ltd.) မှ သီလဝါဆိပ်ကမ်းဒေသ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် ၁၅၊၁၆ (အေနှင့်ဘီ)တွင် ဆောင်ရွက်လျှက် ရှိသည့် စက်သုံးဆီ တင်/ချဆိပ်ခံတံတားနှင့်ဆီသိုလှောင်ကန်များ တည်ဆောက်ကာ၊စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင်၊ သဘာဝပတ်ဝန်းကျင်အပေါ် အကျိုး သက်ရောက်မှုများ လေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာအား တင်ပြခြင်း။

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၁-၂၀၁၂ ရက်စွဲပါ၊ စာအမှတ် ၇က-၆(က)/မ-၁၁၈၂/၂၀၁၂ (၇၁၅-က)
(၂) Elite Petrochemical Co.,Ltd. ၏ ၁၇-၅-၂၀၁၂ ရက်စွဲပါ၊ စာအမှတ် Elite Petro/Thilawa/027/2012

၁။ အထက်ဖော်ပြပါကိစ္စနှင့် ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးသံလျှင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသ၊မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် ၁၅၊ ၁၆ (အေနှင့်ဘီ) တွင် Elite Petrochemical Co.,Ltd. မှ စက်သုံးဆီတင်/ချဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်းကို ဆောင်ရွက်လျှက်ရှိရာ၊ သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများအား လေ့လာဆန်းစစ်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏လမ်းညွှန်မှုအရလည်းကောင်း သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏လမ်းညွှန်မှုအရလည်းကောင်း၊ မြန်မာနိုင်ငံပြည်တွင်းမှ Biodiversity And Nature Conservation Association(BANCA) သို့လုပ်ငန်းအပ်နှံလျှက် သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများလေ့လာဆန်းစစ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ခဲ့ရာ Interim Report of EIA on Thilawa Oil Storage Facility အားရည်ညွှန်းချက် (၂) ပါစာဖြင့် တင်ပြခဲ့ပါသည်။

၂။ BANCA အဖွဲ့မှ သဘာဝပတ်ဝန်းကျင်အပေါ် အကျိုးသက်ရောက်မှုများကိုဆက်လက်လေ့လာဆောင်ရွက်ခဲ့ပြီး ၂၀၀၂ ခုနှစ် ဩဂုတ်လတွင် ENVIRONMENTAL IMPACT ASSESSMENT on 100,000m$^3$ Refined Oil Tank Farm, Thilawa, Yangon အစီရင်ခံစာအားပြုစုတင်ပြခဲ့ပါ၍ ဆောင်ရွက်ထားရှိမှုအခြေအနေများအား သိရှိနိုင်ပါရန်နှင့်လိုအပ်သည်များလမ်းညွှန်နိုင်ပါရန်၊ အစီရင်ခံစာအားပူးတွဲလျှက် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

အောင်သက်မန်း
မန်နေဂျင်းဒါရိုက်တာ

မိတ္တူ -
- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ



## မီးဘေးကြိုတင်ကာကွယ်မှု အထောက်အထားတင်ပြခြင်း

"အထွတ်အထိပ် ရေနံဓါတု ကုမ္ပဏီလီမိတက်" (Elite Petrochemical Co., Ltd.) အနေဖြင့် BOT စနစ်ဖြင့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားတည်ဆောက်ခြင်းနှင့် ဆီသို လှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ကို လုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် (Permit) လျှောက်ထားခြင်းဖြစ်ပါသည်။

**"အထွတ်အထိပ် ရေနံဓါတု ကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) အနေဖြင့် BOT စနစ်ဖြင့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားတည်ဆောက်ခြင်းနှင့် ဆီသို လှောင်ကန်များတည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း** ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ(၆၆၀,၀၀၀)ဆန့် မီးသတ်ရေလှောင်ကန်(၂)လုံး ရေဂါလံ (၁,၃၄၇,၅၀၀) ဆန့် မီးသတ်ရေလှောင်ကန် (၁)လုံး၊ မီးသတ်ပန့်များ၊ မီးသတ်ဘူးများ၊ အမြှုပ်ဖြင့် မီးသတ်စနစ်များ၊ မီးသတ်ကားများ၊ ဓာတ်မီ မီးငြိမ်းသတ်စနစ်များ၊ အချက်ပေး အစီအမံများကို ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။ စက်ရုံအဆောက် အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ် RC သံထည် ပစ္စည်းများဖြင့် တည်ဆောက် ထားပြီး ရေပုံး၊ **မီး**ကပ်၊ သဲအိတ်များကိုလည်း အဆင်သင့် ထားရှိမည် ဖြစ်ပါသည်။ အဆောက်အဦး၏ **နံရံများတွင် မီးသတ်ဘူးများကို** အဆင်သင့် ထားရှိမည်ဖြစ်ပါသည်။ **ထို့အပြင် အဆောက်အဦးတွင် မီးဘေးအန္တရယ်အတွက် စည်းကမ်းချက်များ** ချမှတ်ထားပြီး၊ **ယင်းတို့ကို ဝန်ထမ်းများကတိကျစွာ လိုက်နာ ဆောင်ရွက်ရန်လည်း အစီအမံထားရှိပါသည်။** ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါသည်။ လုပ်ငန်းခွင့်အတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကျပ်စွာ တားမြစ်ထားရှိခြင်းနှင့် လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။ မီးသတ်ဦးစီး

ဌာနနှင့် ရန်ကုန်မြို့တော် လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေး အဖွဲ့တို့၏ သတ်မှတ်ထားသော စည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးအောင်သက်မန်း
မန်နေဂျင်းဒါရိုက်တာ
အထွတ်အထိပ်ရေနံဓါတု
ကုမ္ပဏီလီမိတက်

စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်၍ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် ကာကွယ်ဆောင်ရွက်ထားရှိမှု တင်ပြချက်

**နိဒါန်း**

၁။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး သန်လျင် - ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ အကွက်အမှတ် ၁၅၊ ၁၆ (အေနှင့်ဘီ)တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ၊ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထား ဆောင်ရွက်လျက်ရှိပါသည်။

**ရည်ရွယ်ချက်**

၂။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) အနေဖြင့် နိုင်ငံတော်မှ စက်သုံးဆီသိုလှောင် ဖြန့်ဖြူးခြင်းလုပ်ငန်းအား တိုင်းရင်းသားလုပ်ငန်းရှင်များသို့ လုပ်ဆောင်ခွင့်ပြုသည့်အတွက် တစ်တပ်တစ်အား ပါဝင်ဆောင်ရွက်ရန်ဖြစ်ပါသည်။

**တည်ဆောက်ရေးလုပ်ငန်းများ**

၃။ အထွတ်အထိပ်ရေနံဓါတုကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေကွက်အမှတ် ၁၅၊ ၁၆ (အေနှင့်ဘီ)ကို BOT စနစ်ဖြင့် ငှားရမ်း၍ အောက်ပါတို့ကို တည်ဆောက်အကောင်အထည်ဖော်မည် ဖြစ်ပါသည် -

(က) ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်း

(၁) ဂါလန် ၅.၂ သန်းဆန့် ဒီဇယ်ဆီသိုလှောင်ကန်(၄)လုံး
(၂) ဂါလန် ၁.၃ သန်းဆန့် ဒီဇယ်ဆီသိုလှောင်ကန်(၂)လုံး
(၃) ဂါလန် ၁.၃ သန်းဆန့် ဓါတ်ဆီသိုလှောင်ကန်(၂)လုံး

(ခ) စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ခြင်း

(၁) ပင်မဆိပ်ခံတံတား

- အလျား (၆၈)မီတာ x အကျယ်(၂၀)မီတာ
- ကြိုးချည်စင် (၁၀)မီတာ x (၁၀)မီတာ (၄)စင်
- စုစုပေါင်းအလျား (၂၁၀)မီတာ
- ဆိုက်ကပ်နိုင်သည့် ဆီတင်သင်္ဘောအရွယ်အစား တန်ချိန် ၂၀,၀၀၀

(၂) ချဉ်းကပ်တံတား

- အလျား ၁၂၀.၁၂ မီတာ x အကျယ် ၉ မီတာ

(ဂ) ဆက်နွယ်အဆောက်အဦးများ

(၁) ရုံးအဆောက်အဦး (၃၆ မီတာ x ၁၄.၄ မီတာ)

(၂) စားရိပ်သာ နှင့်သန့်စင်ခန်းများ (၂၈.၈ မီတာ x ၁၄.၄ မီတာ)

(၃) လုပ်ငန်းရုံး (၃၄.၂ မီတာ x ၇.၅ မီတာ)

(၄) ထိန်းသိမ်းရေးအလုပ်ရုံ နှင့်အပိုပစ္စည်းသိုလှောင်ရုံ (၃၆.၉ မီတာ x ၈.၁ မီတာ)

(၅) ရေသန့်စင်ကန် (Raw Water Treatment Area) (၂၀ မီတာ x ၁၀ မီတာ)

(၆) စွန့်ထုတ်ရေသန့်စင်ကန် (Waste Water Treatment Area) (၃၀ မီတာ x ၃၀ မီတာ)

(၇) မီးသတ်ရေကန် (Pool for fire accident) (၅၀ မီတာ x ၃၅ မီတာ x ၃.၅ မီတာ)

(၈) မီးသတ်ပန့်ရုံ (Fire Fighting Pump House) (၃၆ မီတာ x ၉ မီတာ)

(၉) မီးငြိမ်းသတ်ရန်သိုလှောင်ကန် (အချင်း ၁၈.၉ မီတာ၊ အမြင့် ၁၁.၉ မီတာ) (၂)လုံး

(၁၀) မီးသတ်ကားကိုဒေါင် (၃၆ မီတာ x ၁၅ မီတာ)

(၁၁) လုံခြုံရေးအဆောက်အဦး

**မီးဘေးအန္တရာယ်လုံခြုံမှုရှိသည့် ပစ္စည်းများအသုံးပြုခြင်း**

၄။ စက်သုံးဆီများ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းတွင် စက်သုံးဆီများမှာ မီးလောင်လွယ်သည့် ပစ္စည်းအမျိုးအစားဖြစ်၍၊ မီးအန္တရာယ်မကျရောက်စေရေးအတွက် သုံးစွဲသည့် ပစ္စည်းများ၊ ဆောက်လုပ်သည့်အဆောက်အဦးများကို မီးအန္တရာယ်မဖြစ်စေသည့် မီးဘေးအန္တရာယ်ကို ကာကွယ်နိုင်သည့် ပစ္စည်းများ၊ ပေါက်ကွဲမှု မဖြစ်ပွားစေနိုင်သည့် လုံခြုံစိတ်ချရသည့် ပစ္စည်းများ ပေါက်ကွဲမှု မဖြစ်ပွားစေနိုင်သည့် လုံခြုံစိတ်ချရသည့် ကိရိယာတန်ဆာပလာများကို သုံးစွဲဆောင်ရွက်မည်ဖြစ်ပါသည်။ လျှပ်စစ်ပိုင်းဆိုင်ရာ ကိရိယာပစ္စည်းများကို ပေါက်ကွဲမှုမဖြစ်သည့်အမျိုးအစား (Explosion Proof Type) ကိုလည်းကောင်း လျှပ်စစ်မီးကြိုးအကာအကွယ်များကို လည်းကောင်း လျှပ်စစ်မီးကြိုး (Control Cable ) များအား မီးမလောင်လွယ်သည့် (Copper Core Poly ethylene Sheltered Control Cable ) အမျိုးအစားဖြင့်လည်းကောင်း မီးငြိမ်းသတ်ရေးအတွက် အသုံးပြုသည့် မီးကြိုး (Fire Fighting Control Cable ) များတွင်မီးမကူးစက်နိုင်သည့် Fluoro plastic Multi Core inflaming retarding Control Cable များကိုလည်းကောင်း အသုံးပြုဆောင်ရွက်မည် ဖြစ်ပါသည်။

## မီးငြိမ်းသတ်ရေးနည်းစနစ်များ

၅။ မီးငြိမ်းသတ်ရေး လုပ်ငန်းအတွက် နည်းလမ်း(၅)ခုဖြင့်ဆောင်ရွက်ရန် ဖြစ်ပါသည်-

(၁) ပုံသေရေအေးဖြန်းစနစ်
(Fixed Colder Water Spray)

(၂) ပုံသေအမြှုပ်ဖြင့် ဆောင်ရွက်သည့်စနစ်
(Fixed Low Foam Method)

(၃) မီးသတ်ရေငုတ်များ
(Fire Hydrant)

(၄) အမြှုပ်မီးသတ်ရေငုတ်များ
(Foam Hydrant)

(၅) မီးသတ်ဘူးများ
(Fire Extinguisher)

၆။ အဓိက ဆီသိုလှောင်ကန် ဧရိယာများတွင် မီးငြိမ်းသတ်ရေးအကာများ (Fire Blanket ) များတပ်ဆင်ထားရှိခြင်း နှင့် စောစီးစွာမီးငြိမ်းသတ်ရေးနှင့် သာမန်မီးဘေးအန္တရယ် ကိစ္စရပ်များအတွက် မီးသတ်သဲ (Fire Sand) များ ပစ္စည်းကိရိယာအစုံဖြင့် ထားရှိမည်ဖြစ်ပါသည်။

၇။ ဆီအထုတ်အသွင်း အထောက်အကူဧရိယာများနှင့် လူနေဧရိယာများတွင် မီးသတ်ရေငုတ် Out Door Fire Hydrant နှင့် မီးသတ်ဆေးဘူးများ (Fire Extinguisher) များကို အဓိက မီးငြိမ်းသတ်ရေးပစ္စည်းများအဖြစ်ထားရှိမည် ဖြစ်ပါသည်။

၈။ ဆီသိုလှောင်ကန်များဧရိယာအတွင်းရှိ အဆောက်အဦးများနှင့် ပြင်ပ အဆောက် အဦးများအတွက် မီးငြိမ်းသတ်ရေးကိစ္စအား ဆီသိုလှောင်ကန်ဧရိယာရှိ မီးသတ်ရေငုတ် (Fire Hydrant) မှ အသုံးပြုနိုင်ရန် စီစဉ်ဆောင်ရွက်မည် ဖြစ်ပါသည်။

## မီးငြိမ်းသတ်ရန် ရေလိုအပ်ချက်

၉။ မီးငြိမ်းသတ်ရန် ရေလိုအပ်ချက်အား တွက်ချက်ရာတွင် ဆီသိုလှောင်ကန်များ **အအေးခံခြင်း (Cool down) နှင့် အမြှုပ်ရေ** (Foam Liquid) ဆောင်ရွက်ခြင်းအတွက် လိုအပ်ချက် ပမာဏနှစ်ခုပေါင်း ဖြစ်ပါသည်။ ဂါလန် (၅.၂)သန်းဆန့် ဆီသိုလှောင်ကန် တစ်လုံး မီးအန္တရာယ်ကျရောက်ချိန်တွင် ဂါလန်(၅.၂)သန်းဆန့်ဆီသိုလှောင်ကန်(၃)လုံးအား အအေးခံ ခြင်းလုပ်ငန်းအတွက် ရေအများဆုံး အသုံးပြုရမည့်အချိန် (Water Consumption Peak) ဖြစ်ပါသည်။

၁၀။ အမြှုပ်ရေလိုအပ်ချက် (Foam Needed) အတွက် ဂါလန် (၅.၂)သန်းဆန့် ဆီသိုလှောင်ကန်အတွက် အောက်ပါအတိုင်းတပ်ဆင်ဆောင်ရွက်မည် ဖြစ်ပါသည် -

(1) 8 sets of PC 16 Foam Generator
- Foam Mixture Flow Rate - 128 Litre/sec
- Supply Quantity - 345.6 $M^3$

(2) 3 sets of PQ4 Foam Nozzle
- Foam Mixture Flow Rate - 12 Litre/sec
- Supply Capability - 21.6 $M^3$

(3) Tank Area Foam Mixture Pipe

| | | |
|---|---|---|
| Dia | - | DN 300 Pipe |
| Length | - | 900 Meters |
| Capacity | - | 64 $M^3$ (Foam Mixture) |
| Foam Mixture Flow Rate: | | 140 litre/ Sec |

မီးလောင်မှုဖြစ်ပွားစဉ် အမြှုပ်ရေ (Foam Mixture) 431.2 $M^3$ သုံးစွဲနိုင်ရန် စီစဉ်ထားရှိပါမည်။ အဆိုပါ အမြှုပ်ရေ အတွက် အမြှုပ်ရေ 12.9 $M^3$ နှင့် ရေ 418.3 $M^3$ အချိုးဖြင့် ဖျော်စပ်အသုံးပြုမည် ဖြစ်ပါသည်။

၁၁။ အအေးခံရန် ရေလိုအပ်ချက်မှာ (၅.၂)သန်းဆန့် ဆီသိုလှောင်ကန် မီးအန္တရာယ် ကျရောက်ပါက ယင်းနှင့်အနီးကပ်ဆုံး ဆီသိုလှောင်ကန်(၂)လုံးအား အအေးခံရမည်ဖြစ်ရာ ရေလိုအပ်ချက်အား အောက်ပါအတိုင်း ရရှိအောင် ဆောင်ရွက်ထားမည် ဖြစ်ပါသည် -

- မီးဘေးကျရောက်သည့် ဆီသိုလှောင်ကန်အတွက် ရေကို 93.5 litre/ Sec နှုန်းဖြင့် အေးအောင်ဆောင်ရွက်ပါမည်။
- ကပ်လျှက်ရှိသည့် သိုလှောင်ကန်(၂)လုံးအတွက် ရေကို 112.1 litre/ Sec နှုန်းဖြင့် အေးအောင်ဆောင်ရွက်ပါမည်။

သို့ဖြစ်ရာ ရေအေးစနစ်အတွက် 205.6 litre/ Sec နှုန်းဖြင့် အသုံးပြုရမည်ဖြစ်ရာ မီးငြိမ်းသတ်ရန်ရေ 4440.1 $M^3$ သုံးစွဲပါမည်။

မီးဘေးအန္တရာယ်ကျရောက်စဉ် သုံးစွဲရမည့်ရေလိုအပ်ချက်မှာ အမြှုပ်ရေ လိုအပ်ချက်နှင့် ရေအေး စုစုပေါင်း (418.3 $M^3$+ 4440.1 $M^3$) 4858.4 $M^3$ ဖြစ်ပါမည်။

၁၂။ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားတွင် မီးအန္တရာယ်ရှိပါက သုံးစွဲမည့် မီးသတ်ပန့်များ၏ ပမာဏ (Pump Capacity)မှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | |
|---|---|---|
| - Rate | - | 220 litre/ Sec |
| - Capacity | - | 1810.12 $M^3$ |
| - Pressure | - | 1.2 Mpa |
| - Pipe | - | DN 400 |

မီးငြိမ်းသတ်ရေး အစီအမံများကို ဆီတင်ရေယာဉ် တန်ချိန် (၂၀၀၀၀)တန် ပေါ်တွင် အခြေခံ၍ ဆောင်ရွက်ထားရာ ပုံသေရေအေးစနစ် (Fixed Water Cooling) အမြုပ်ရေဖြင့် မီးငြိမ်းသတ်စနစ် (Foam Firefighting System) နှင့် ဆီသယ်ရေယာဉ် အတင်အချမျှော်စင် (Vessel Unloading Tower)တွင် မီးအန္တရာယ် စောင့်ကြည့်ကိရိယာ (Fire Monitor) နှစ်စုံကို တပ်ဆင်ဆောင်ရွက်ထားရှိမည် ဖြစ်ပါသည်။ အဆိုပါ နှစ်စုံအနက် ဆီတင်/ချမျှော်စင်၏ အောက်ပိုင်းတွင် Electrical Fire Water Monitor ကိုလည်းကောင်း၊ အပေါ်ပိုင်းတွင် Electrical Foam Monitor ကိုလည်းကောင်း တပ်ဆင်ထားရှိမည်ဖြစ်ပါသည်။ ချဉ်းကပ်တံတား၏ ၅၀ မီတာအကွာအဝေးတိုင်းတွင် Indoor Pressure Reduced Hydrant (Water Foam) ရေငုတ်တို့ကို တပ်ဆင်ထားရှိမည်ဖြစ်ပြီး ယင်း၏ဘေးတွင် မီးသတ်သေတ္တာ (Fire Fighting Box) များထားရှိ၍ သေတ္တာထဲတွင် အမြုပ်ရေသုံးနော်ဇယ် (Foam Nozzle), ရေသုံးနော်ဇယ် (Water Nozzle) နှင့် မီးသတ်ရေပိုက်များ အလုံအလောက် ထားရှိမည် ဖြစ်ပါသည်။

သင်္ဘောဆီတင်/ချလုပ်ငန်းအဆောက်အဦ (Berth Comprehensive Building) တွင် အမြုပ်ရေအတွက်နေရာ (Foam Station) ပါဝင်ပြီး အောက်ပါအတိုင်း တပ်ဆင်ထားရှိ ပါသည်။

(1) Storage Tank (8,000 litre)

(2) One Set of Pressurized air-foam mixer

(3) Supply Rate 60 litre/ Sec

မီးအန္တရာယ်နှင့် ပတ်သက်၍ သတင်းအချက်အလက် ပေးပို့ရေးအတွက် Fire Fighting Control Cabinet တွင် တိုက်ရိုက်ခေါ်ဆိုနိုင်သည့် မီးငြိမ်းသတ်ရေးဖုန်းနှင့် ပေါက်ကွဲမှုမရှိ (Explosion Proof) Mobile Phone တို့ကို အသုံးပြုမည် ဖြစ်ပါသည်။

**မီးသတ်ရန် ဆောင်ရွက်ထားသည့် နည်းစနစ်ပုံစံ**

၁၃။ မီးသတ်ပန့်အဆောက်အဦးတစ်ခု တည်ဆောက်မည်ဖြစ်ပြီး ဆီသိုလှောင်ကန် ဧရိယာအတွင်းတွင် 3000 $M^3$ ပမာဏရှိ မီးသတ်ရေတိုင်ကီ (Fire Water Tank)၂ စုံ ပါရှိမည် ဖြစ်၍ ၂၇ မီတာ x ၉ မီတာ x ၇ မီတာ အရွယ်အစားရှိမည် ဖြစ်ပါသည်။ လျှပ်စစ်ဖြင့် မောင်းနှင်မည့် 200 litre/ Sec, 1.4 Mpa ပမာဏ ပန့်(၃)စုံကို တပ်ဆင်ထားရှိမည်ဖြစ်ပြီး (၂)စုံလည်ပတ်စဉ် (၁)စုံကို အသင့်အနေအထား (Stand by)အဖြစ် ထားရှိဆောင်ရွက်မည် ဖြစ်ပါသည်။ Air Pressure Tank အတွက် Pressure Stabilization Facility တစ်ခုကိုလည်း ထည့်သွင်းထားရှိမည် ဖြစ်ပါသည်။ မီးငြိမ်းသတ်အမြုပ်ရေ (Foam Liquid) အတွက် pressurized Foam Mixer 80 litre/ Sec, Capacity $8M^3$ နှစ်စုံကိုလည်း ထည့်သွင်းတပ်ဆင်မည် ဖြစ်ပါသည်။ အမြုပ်ရေ (Foam Liquid) စုစုပေါင်း 160 litre/ Sec နှင့် Foam Capacity $16M^3$ ကို သုံးစွဲနိုင်မည် ဖြစ်ပါသည်။

မီးငြိမ်းသတ်ရေးပစ္စည်းများ

၁၄။ ဆီသိုလှောင်ကန် (၁)လုံးစီတွင် ပုံသေရေဖြန်းစနစ် (Fixed Water Spray)၊ ရေမြှုပ်ထုတ်လုပ်စက် (Foam Generator)၊ ရေမြှုပ်ဖြန်းပစ္စည်း (Foam Nozzle) နှင့် မီးသတ်ရေငုတ် (Fire Hydrant) တို့ ပါရှိပါမည်။ မီးသတ်ရေငုတ် (Fire Hydrant) နှင့် မီးသတ်ရေမြှုပ် (Foam Hydrant) တို့အနီးတွင် Fire Fighting Cabinet တို့ကိုပါ တပ်ဆင်ထားရှိမည် ဖြစ်ပါသည်။

၁၅။ မီးငြိမ်းသတ်ရေး လုပ်ငန်းဌာနတွင် အောက်ပါတို့ကို ထားရှိမည်ဖြစ်ပါသည် -

(1) Two Fire Fighting Foam Tankers

(2) Two Movable Water / Foam, Two Function Fire Nozzle of 40 litre/ Sec

(3) Equipment with Emergency Apparatus

(4) Fire Man Protection Equipments

(5) Communication Tools etc. . .

၁၆။ မီးငြိမ်းသတ်ရေးအတွက် မီးသတ်ဌာနတွင် မီးသတ်သမား (၂၀)ဦးကို တာဝန်ချထားမည်ဖြစ်ပြီး လေ့ကျင့်သင်တန်းပေးထားသည့် အလုပ်ခွင်မှုဝန်ထမ်းများဖြင့် အားဖြည့်ဆောင်ရွက်မည် ဖြစ်ပါသည်။

မီးဘေးအန္တရာယ်အတွက် ဆက်သွယ်ရေး စနစ်များ

၁၇။ မီးသတ်ဌာန၊ မီးသတ်ပန့်ရုံ၊ မီးသတ်ကားများ ထားရှိမည့်နေရာများ၊ လုံခြုံရေးဌာနများသို့ တယ်လီဖုန်းစနစ်များ ထားရှိမည်ဖြစ်ပြီး မီးသတ်ဌာန၊ မီးသတ်ပန့်ရုံ၊ မီးသတ်ကားထားရှိရာများသို့ အချိန်မရွေး တိုက်ရိုက်ဆက်သွယ်နိုင်သည့် တယ်လီဖုန်းစနစ်များကိုလည်း တပ်ဆင်ထားရှိမည် ဖြစ်ပါသည်။

၁၈။ မီးဘေးအန္တရာယ်ကျရောက်ချိန်တွင် ကျောက်တန်းမြို့နယ်၊ သန်လျင်မြို့နယ်နှင့် ရန်ကုန်တိုင်းဒေသကြီး မီးသတ်ဦးစီးဌာနများသို့ အချိန်နှင့်တပြေးညီ ဆက်သွယ်သတင်းပို့ အကူအညီရယူရေး ကိစ္စရပ်များကိုလည်း စီစဉ်ဆောင်ရွက်မည် ဖြစ်ပါသည်။

နိဂုံး

၁၉။ အထွတ်အထိပ်ရေနံဓါတု ကုမ္ပဏီလီမိတက် (Elite Petrochemical Co., Ltd.) အနေဖြင့် ဆောင်ရွက်လျက်ရှိသည့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန်များ တည်ဆောက်၍ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းအတွက် မီးဘေးအန္တရာယ် မကျရောက်စေရေးအတွက် လိုအပ်သည့် အစီအမံများကို ခေတ်မီနည်းစနစ်များဖြင့် မီးအန္တရာယ်ခံနိုင်သည့်ပစ္စည်းများ၊ ပေါက်ကွဲမှုမဖြစ်စေနိုင်သည့် ပစ္စည်းကိရိယာများ၊ လျှပ်စစ်မိုးကြိုးအန္တရာယ် အကာအကွယ်များကို နိုင်ငံတကာ စံချိန်စံညွှန်းများနှင့်အညီ သုံးစွဲဆောင်ရွက်

မည် ဖြစ်ပါကြောင်းနှင့် မီးဘေးအန္တရာယ်ကျရောက်ပါကလည်း မီးငြိမ်းသတ် ဆောင်ရွက်ရေး အတွက် ခေတ်မီနည်းစနစ်များနှင့် စက်ပစ္စည်းကိရိယာများကို အသုံးပြုလျှက် အစဉ်နိုးကြားသော သတိဖြင့် အထူးအလေးထား ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူမှုဝန်ထမ်း၊ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
မီးသတ်ဦးစီးဌာန

စာအမှတ်၊ ၅၀၄ / ၁၀၀ / ၂၈ / ဦး ၁
ရက် စွဲ ၊၂၀၁၂ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက်

အကြောင်းအရာ။ E-Lite Petrochemical Co., Ltdမှ သီလဝါစက်မှုဇုန်အတွင်း ဓါတ်ဆီ၊ ဒီဇယ်ဆီ၊ သိုလှောင်ကန်များတည်ဆောက်ခြင်းနှင့်ပတ်သက်၍အကြံပြုချက်များ ပေးပို့ခြင်း

ရည် ညွှန်း ချက်။ E-Lite Petrochemical Co., Ltd ၏ (၄.၁၀.၂၀၁၂)ရက်စွဲပါစာအမှတ်၊ E-Lite Petro / Thilawa / 035 / 2012

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ E-Lite Petrochemical Co., Ltd မှ သီလဝါစက်မှုဇုန်အတွင်း ဓါတ်ဆီ၊ဒီဇယ်ဆီ သိုလှောင်ကန်များ တည်ဆောက်ခြင်းနှင့်ပတ်သက်၍ မီးငြိမ်းသတ်ရေးနှင့် မီးဘေးကြိုတင်ကာကွယ်ရေးဆိုင်ရာ အကြံပြုချက်များကို ပူးတွဲပေးပို့ပါသည်။

၂။ အဆိုပါအကြံပြုချက်များအတိုင်း မီးဘေးကြိုတင်ကာကွယ်ရေးစနစ်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက မီးသတ်ဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

၃။ ဖော်ပြပါ မီးဘေးကြိုတင်ကာကွယ်ရေး စစ်ဆေးထောက်ခံချက်ပေးပြီးနောက် မီးသတ်ဦးစီးဌာနမှ အခါအားလျော်စွာ ပြန်လည်စစ်ဆေးရာ၌ အကြံပြုချက်များအတိုင်း မီးဘေးကြိုတင်ကာကွယ်ရေးစနစ်များအား လိုက်နာဆောင်ရွက်ခြင်းမရှိပါက မီးဘေးကြိုတင်ကာကွယ်ရေး စစ်ဆေးထောက်ခံချက်ကို ပြန်လည်ရုပ်သိမ်းပါမည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဦးသင်းဌေးရွှေ၊ ညွှန်ကြားရေးမှူး)

မန်နေဂျင်းဒါရိုက်တာ
သီလဝါစက်မှုဇုန်ဆီသိုလှောင်ကန်တည်ဆောက်ရေးစီမံကိန်း
E-Lite Petrochemical Co., Ltd

မိတ္တူ

ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန၊ နေပြည်တော်၊
အမှတ်(၂)ပြည်နယ်/တိုင်းဒေသကြီးမီးသတ်ဦးစီးရုံးများကွပ်ကဲမှုဌာနခွဲ၊
ရန်ကုန်တိုင်းဒေသကြီးမီးသတ်ဦးစီးဌာနမှူးရုံး၊
သီးသန့်စာတွဲ/မျှောစာတွဲ/လက်ခံစာတွဲ။

## သိုလှောင်ကန်နှင့် Bund အကြားရှိရမည့် အကွာအဝေး




၁၀။ **မီးကာနံရံများ။** မီးကာနံရံများအားအောက်ပါအတိုင်းတည်ဆောက်ရမည်-

(က) မီးဒဏ်ခံအားအနည်းဆုံး(၄)နာရီခံနိုင်ရမည်။

(ခ) မီးဒဏ်ခံတံခါးမှလွဲ၍ မီးကာနံရံမှအရည်များစိမ့်ဝင်ပျံ့နှံ့ခြင်းမရှိရန် ဆောက်လုပ်ထားရမည်။

(ဂ) မီးကာနံရံ၏ အောက်ခြေအား အခိုင်အမာတည်ဆောက်ထားရမည်ဖြစ်ပြီး၊ အခြားမည်သည့်အစိတ်အပိုင်းများနှင့် ချိတ်ဆက်ထားခြင်းမရှိဘဲ သီးခြားရပ်တည်နိုင်အောင် ဆောက်လုပ်ထားရမည်။

(ဃ) မီးလောင်မှုဖြစ်ပွားပါက ဘေးပတ်ဝန်းကျင်သို့ အပူဖြာကူးခြင်းမှ ကာကွယ်နိုင်ရန် လုံလောက်သည့် အမြင့်ရှိရမည်။

(င) မီးကာနံရံအား မီးသတ်ဦးစီးဌာန၏ခွင့်ပြုချက်အကွာအဝေးတိုင်း တည်ဆောက် ထားရမည်။

မှတ်ချက်။ (200-mm)ရှိအုတ်၊အင်္ဂတေဖြင့် ပြုလုပ်ထားသောနံရံ(သို့မဟုတ်) (150-mm)ရှိ သံကူကွန်ကရစ်ဖြင့် ပြုလုပ်ထားသော နံရံအား မီးဒဏ်(၄)နာရီ ခံနိုင်သည်ဟု သတ်မှတ်သည်။

၁၁။ မော်တော်ယာဉ်ချဉ်းကပ်လမ်းများ-

(က) ချဉ်းကပ်လမ်းများသည်အနည်းဆုံး(၄)မီတာအကျယ်ထားရှိရမည်။

(ခ) လမ်းဘေးကားရပ်နားသည့်နေရာများသည်အနည်းဆုံး(၃.၅)မီတာကျယ်ပြီး (၁၅)မီတာ အရှည်ရှိရမည်။

(ဂ) အန္တရာယ်ရှိသည့်နေရာများသို့ ဝင်ရောက်ရန် တာဝန်ရှိသူများ၏ ခွင့်ပြုချက်မရရှိပါက မော်တော်ယာဉ်များသည် သတ်မှတ်ထားသည့် ဘေးကင်းလုံခြုံသည့်နေရာများထိသာ ဝင်ရောက်အသုံးပြုရေးကန့်သတ် ထားရမည်။

(ဃ) လမ်းပေါ်တွင်မောင်းနှင်အသုံးပြုရန် သင့်တော်သည့်ယာဉ်များသာ တားမြစ်ဧရိယာအတွင်း မောင်းနှင်သွားလာရန်ခွင့်ပြုရမည်ဖြစ်ပြီး ယာဉ်မောင်းများသည်လည်း မော်တော်ယာဉ်များအား ကျွမ်းကျင်စွာကိုင်တွယ် အသုံးပြုမောင်းနှင်နိုင်ရမည်။

(င) သတ်မှတ်ဧရိယာအတွင်း သင့်တော်သည့် သတ်မှတ်မိုင်နှုန်းအတိုင်းသာ မောင်းနှင်စေရမည်ဖြစ်ပြီး သတိပေးဆိုင်းဘုတ်များလည်း တပ်ဆင်ထားကာ စစ်ဆေးမှုများ ပြုလုပ်ရမည်။

(စ) သာမန်နှင့်အရေးပေါ်အခြေအနေများတွင်လုပ်ငန်းများဆောင်ရွက်နိုင်ရန် မော်တော်ယာဉ်များအား သတ်မှတ်ကားရပ်နားသည့် နေရာများတွင်သာ ရပ်နားစေရမည်။

၁၂။ ညအချိန်အရေးပေါ်ကိစ္စများ အသုံးပြုရန်အတွက် အားကောင်းသော လက်နှိပ်ဓာတ်မီးများ၊ လက်ကိုင်အသံချဲ့စက်များ၊ရောင်ပြန်ပါသော တူညီဝတ်စုံများ၊မီးကာဝတ်စုံများ၊ အသက်ရှူကိရိယာများ ဝယ်ယူဖြည့်တင်း ထားရှိရန်နှင့် လမ်းပြဆိုင်းဘုတ်များကို ရောင်ပြန်ဆေးဖြင့် ရေးသားထားရမည်။

**မီးငြိမ်းသတ်ရေးအတွက်ဆောင်ရွက်ထားရှိရမည့်အချက်များ**

၁၃။ **အသေတပ်ဆင်ထားသည့်အမြှုပ်ထုတ်လုပ်သည့်စနစ်များ။** သိုလှောင်ကန်များတွင် အောက်ဖော်ပြပါ အမျိုးအစားများမှ တစ်နည်းနည်းဖြင့် တပ်ဆင်ထားရှိရမည်-

(က) Primary System(Main Fire-Fighting Source)

(၁) Fixed Topside

TYPES 1 & 2 SYSTEMS
Fixed, Topside

Aerated Foam
Foam Solution
Fuel

TYPES 1 SYSTEMS
Fixed Topside

Direct application
Aerated Foam
Foam Solution
Foam Pourer
Glass
Vapor seal
Tank
Inductor

(ခ) မီးငြိမ်းသတ်ရေးလုပ်ငန်းများ စဉ်ဆက်မပြတ်ဆောင်ရွက်နိုင်စေရန် စက်မှုဆိုင်ရာ အဆောက်အဦများတွင် တစ်နာရီခွဲ ရေနံချက် စက်ရုံများနှင့်အမြောက်အများ သိုလှောင်ထားရှိရာနေရာများတွင်(၆)နာရီကြာအသုံးပြုသည့်ရေပမာဏကို ထောက်ပံ့ပေးနိုင်ရမည်

(ဂ) Fire Mainsကို ဘေးအန္တရာယ်ဖြစ်ပွားနိုင်မှု နည်းပါးသည့်ဧရိယာများ ( Battery Limit ၏ အပြင်ဘက်) မြေပေါ်တွင် သွယ်တန်းတပ်ဆင်ထားရှိရမည်။

(ဃ) Fire Mains ကိုဘေးအန္တရာယ်ဖြစ်ပွားနိုင်မှုမြင့်မားသည့်ဧရိယာများတွင် မီးသတ်ယာဉ် အစရှိသည့် မော်တော်ယာဉ် များအဆင်ပြေချောမွေ့စွာသွားရောက်နိုင်ရေး မြေအောက်တွင် မြှုပ်နှံသွယ်တန်း တပ်ဆင်ထားရှိရမည်။

<u>အမြှုပ်လုပ်မီးသတ်ယာဉ် (Foam Tenders)</u>

၁၆။ (က) စက်သုံးဆီသိုလှောင်ကန်များတွင် မီးလောင်မှုဖြစ်ပွားပါက မီးငြိမ်းသတ်နိုင်ရေးအတွက် အမြှုပ်လုပ် မီးသတ်ယာဉ် (Foam Tender )ဝယ်ယူထားရှိရမည်။

(ခ) အမြှုပ်လုပ်မီးသတ်ယာဉ် Foam generation capabilityသည်အနည်းဆုံး 3800 l/min ရှိရမည်ဖြစ်ပြီး Pumping capability သည် 4500 l/minရှိရမည်

<u>အမြှုပ်ဆေးရည်သယ်ယာဉ် (Foam Carriers)</u>

၁၇။ အမြှုပ်လုပ်မီးသတ်ယာဉ် (Foam Tenders)ဖြင့် မီးငြိမ်းသတ်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် အမြှုပ်ဆေးရည်များ အဆက်မပြတ်ထောက်ပံ့နိုင်ရန် အမြှုပ်ဆေးရည်သယ်ယာဉ် (Foam Carriers) များ ဝယ်ယူထားရှိရမည်။

<u>မီးသတ်ရေငုတ်များ</u>

၁၈။ (က) မီးသတ်ရေငုတ်များအား မီးသတ်ရေပိုက်(၃၀)မီတာ(၂)လိပ်နှင့်ရေလုံး၊ ရေဖျန်းစနစ် နှစ်မျိုးစလုံးသုံးနိုင်သည့် မီးသတ်ပိုက်ခေါင်းတစ်ခုပါ မီးသတ်ရေပိုက်သေတ္တာနှင့်တွဲဘက်၍ အကွာအဝေး (၅၀)မီတာတိုင်းတွင် ထားရှိရမည်။

(ခ) မီးသတ်ရေငုတ်များတွင် ရေထွက်ခေါင်း ၂ ခု(သို့)၃ ခု(သို့)၄ခုပါခေါင်းများ တပ်ဆင်ထားရှိရမည်ဖြစ်ပြီး၊ ရေထွက် ခေါင်းများအားမီးသတ်ယာဉ်ချဉ်းကပ် လမ်းများဘက်သို့ ဦးတည်ထားရှိရမည်။

(ဂ) မီးသတ်ရေငုတ်နှင့်မီးသတ်ယာဉ်ချဉ်းကပ်လမ်းအကွာအဝေးသည်(၅)မီတာထက်မပိုရန်

(ဃ) သိုလှောင်ကန်ဧရိယာအတွင်းမီးသတ်ရေငုတ်မထားရှိရန်

(င) မီးသတ်ရေငုတ်များအား(Steel)ဖြင့် ပြုလုပ်ထားရမည်ဖြစ်ပြီး အချင်း(၁၀၀-၁၅၀)မီလီမီတာ အတွင်း ထားရှိရမည်ဖြစ်ပြီး၊သက်ဆိုင်ရာမီးသတ်ဌာနမှ မီးသတ်ယာဉ်များဖြင့်အလွယ်တကူ ချိတ်ဆက် အသုံးပြုနိုင်ရန် ညှိနှိုင်းဆောင်ရွက်ထားရမည်။

(စ) အလွယ်တကူ ပျက်စီးမှုမဖြစ်စေရန်(Pillar Type)အမျိုးအစား မီးသတ်ရေငုတ်များကို အသုံးပြုရန်

(ဆ) မီးသတ်ရေပက်ပိုက်ခေါင်း (Pressure)သည် (700 kN/m²)ထက်မနည်းစေရန်

(ဇ) မီးသတ်ရေငုတ်များ၏ (Running Pressure)သည် (10 bar )ထက်မနည်းစေရန်

(ဈ) မီးသတ်ရေငုတ်ရှိ ရေထွက်ခေါင်းများ၏ (Flow Rate)မှာ (700L/min)ရှိရန်

(၂) Sub-Surface System







(၃) အမြှုပ်ဆေးရည်လိုအပ်ချက်ကို အောက်ပါပုံသေနည်းဖြင့် တွက်ချက်ထားရှိရမည်-

6.5 l/m x $\pi/4d^2$ x 00.3 or 0.06 x 60 min

(၄) အသေတပ်ဆင်ထားသည့် အမြှုပ်လုပ်စနစ်များတပ်ဆင်ထားသည့် သိုလှောင်ကန်များအတွက် အနည်းဆုံး (၂)နာရီစာ အမြှုပ်ဆေးရည်များ ထားရှိရမည်။

(၅) တပ်ဆင်ရန်လိုအပ်သည့် Discharge point အရေအတွက်ကို အောက်ပါအတိုင်း သိုလှောင်ကန်များ၏ အချင်းပေါ်မူတည်၍ဆောင်ရွက်ရမည်-

| သိုလှောင်ကန်အချင်း (မီတာ) | တပ်ဆင်ရန်လိုအပ်သည့် အရေအတွက် |
|---|---|
| ၂၄ မီတာ ထိ | ၁ |
| ၂၄ မီတာ မှ ၃၆ မီတာထိ | ၂ |
| ၃၆ မီတာ မှ ၄၂ မီတာထိ | ၃ |
| ၄၂ မီတာ မှ ၄၈ မီတာထိ | ၄ |
| ၄၈ မီတာ မှ ၅၄ မီတာထိ | ၅ |
| ၅၄ မီတာ မှ ၆၀ မီတာထိ | ၆ |

(၆) လိုအပ်သည့် ရေပမာဏထောက်ပံ့ပေးနိုင်ရန် ရေလှောင်ကန်ထားဖြင့် တည်ဆောက်ထားရှိရမည်။

(ခ) Supplementary Systems

(၁) သိုလှောင်ကန်ပတ်ဝန်းကျင်ရှိ ယိုစိမ့်လျှံကျနေသည့်ဆီများ မီးစွဲတောက်လောင်မှုများငြိမ်းသတ်နိုင်ရန် အနည်းဆုံး (500 L/min) အမြှုပ်ဆေးရည်ပက်ဖျန်းနိုင်သည့် ပိုက်လိုင်း နှစ်ခုထားရှိရမည်။

(၂) <u>အသေတပ်ဆင်ထားသော ရေမှုန်ရေမွှားပက်ဖျန်းသည့်စနစ်</u>

(ကက) သိုလှောင်ကန်များ၏ ဘေးပက်တွင် အသေတပ်ဆင်ထားသော ရေမှုန်ရေမွှားပက်ဖျန်း နိုင်သည့် စနစ်တပ်ဆင်ထားရမည်

(ခခ) ၎င်းစနစ်တွင် အဖွင့်အပိတ်ပြုလုပ်နိုင်သည့် (Valve)ကို 150 m² နှင့် သိုလှောင်ကန်များတွင် ၁၅ မီတာအကွာအဝေးမှတပ်ဆင်ထားရှိရန်နှင့် ပိုမိုကြီးမားသည့် သိုလှောင်ကန်များအတွက် ၃၀ မီတာ အကွာအဝေးတွင် တပ်ဆင်ထားရှိရမည်၊

(ဂဂ) အနည်းဆုံး ဖိအားသည် 3.5 bar to 4.5 bar ရှိရမည်ဖြစ်ပြီး အနည်းဆုံး water application rate သည် 2L/min/m² ရှိရမည်

(၃) <u>Mobile and Portable water monitors။</u> အနီးပတ်ဝန်းကျင်သို့ မီးကူးစက်ပြန့်ပွားခြင်းမရှိစေရန်နှင့် အအေးပေးလုပ်ငန်းများဆောင်ရွက်နိုင်ရန် (Mobile and Portable water monitors) အနည်းဆုံး(၄)ခု ထားရှိရမည်ဖြစ်ပြီး (1500 L/min)ရရှိအောင်ဆောင်ရွက်ထားရမည်။

(၄) <u>Mobile and Portable Foam monitors။</u> မီးငြိမ်းသတ်ရေးလုပ်ငန်းများဆောင်ရွက်နိုင်ရန် (Mobile and Portable Foam monitors ) အနည်းဆုံး (၂)ခု ထားရှိရမည်ဖြစ်ပြီး(2000 L/ min)ရရှိအောင်ဆောင်ရွက်ထားရမည်

<u>မီးသတ်ပန့်များ</u>

၁၄။ (က) မီးသတ်ပန့်များအားထိန်းချုပ်ခန်းမှဖြစ်စေ ပန့်မှဖြစ်စေမောင်းနှင်ရပ်တန့်နိုင်ရမည်

(ခ) အင်ဂျင်အသုံးပြုသည့်ပန့်များမှအပ Secondary Power Supply စီစဉ်ထား ရှိရမည်

(ဂ) မည်သည့်စွမ်းအင်သုံးပန့်အမျိုးအစားကိုမဆို အနည်းဆုံး (၆) နာရီကြာ အဆက်မပြတ် အသုံးပြု နိုင်အောင် စီစဉ်ထားရှိရမည်၊

(ဃ) မီးသတ်ပန့်များကိုအဝေးဆုံးသိုလှောင်ကန်သို့ဖိအား 10 bar ပေးပို့နိုင်ရန်နှင့် Fire main များ၏ Velocity ကို 3.5 m/s ပေးပို့နိုင်ရမည်။

(င) အနည်းဆုံးစက်စွမ်းအားအတူအညီဖြင့် ပန့်နှစ်လုံး(Standby & Reserved)အား ထားရှိရမည်ဖြစ်ပြီး နှစ်လုံးထက်ပိုပါက Reserved ပန့်များသည် လိုအပ်သည့် Flow rate နှင့် Pressure ကို အနည်းဆုံး (၅၀)ရာခိုင်နှုန်း ထောက်ပံ့ပေးနိုင်ရမည်

<u>Fire Mains</u>

၁၅။ (က) မီးဘေးအန္တရာယ်ဖြစ်ပွားနိုင်မှုမြင့်မားသည့်သိုလှောင်ကန်များ၏အခြေခံမီးငြိမ်းသတ်ရေး ပစ္စည်းကိရိယာများတွင် Fire grid main or ring main များကိုသီးခြားထားရှိရမည် Fire mains များအား သင့်တော်သည့်ရေရရှိနိုင်သည့်နေရာများမှတစ်ဆင့် ပန့်များဖြင့် အသေတပ်ဆင် ဆက်သွယ်ထားရှိရမည်

**မီးလှန့်အချက်ပေးစနစ်များ**

၁၉။ (က) မီးလှန့်အချက်ပေးစနစ်အား (Auto/Manual)ဖြင့် အသုံးပြုနိုင်စေရန် ဆောင်ရွက်ထားရမည်။

(ခ) အခြားအချက်ပေးအသံများနှင့်မတူညီစေဘဲ အလွယ်တကူခွဲခြားသိရှိနိုင်သည့် မီးလှန့်အချက်ပေး အသံမျိုးဖြစ်ရမည်။

(ဂ) မီးလှန့်အချက်ပေးစနစ်အားလျှပ်စစ်ဓါတ်အားပြတ်တောက်သွားချိန်တွင်အသုံးပြုနိုင်ရန် အရေးပေါ် လျှပ်စစ်ဓါတ်အားပေး စနစ်ဖြင့် ချိတ်ဆက်တပ်ဆင်ထားရှိရမည်။

**လက်ဖြင့်ကိုင်တွယ်အသုံးပြုနိုင်သောအပေါ့စားမီးငြိမ်းသတ်ရေးပစ္စည်းကိရိယာများ**

၂၀။ (က) အမြှုပ်လုပ် မီးသတ်ဆေးဘူးများနှင့် ဓာတုဗေဒပေါင်ဒါမှုန့်ခြောက် မီးသတ်ဆေးဘူး (Dry Chemical Powder)များကို မီးသတ်ဦးစီးဌာန၏ ညွှန်ကြားချက်နှင့် အညီထားရှိရမည်။

(ခ) မီးသတ်ဆေးဘူးများအား ရာသီဥတုဒဏ်ကြောင့် ပျက်စီးမှုမဖြစ်စေရန် အကာကွယ်များဖြင့် စနစ်တကျထားရှိရမည်။

(ဂ) စက်သုံးဆီသိုလှောင်ကန်များအနီးတွင် မီးသတ်စင် (Fire Point)များ၊ မီးချိတ်၊ မီးကပ်သဲပုံး၊ သဲစည်များ၊ ဂေါ်ပြား နှင့်လှေကားများထားရှိရမည်။

**အထွေထွေ**

၂၁။ (က) တားမြစ်ဧရိယာအတွင်းမီးခြစ်များယူဆောင်လာခြင်းမပြုရန်၊

(ခ) ခွင့်ပြုနေရာများမှအပဆေးလိပ်သောက်ခြင်းကိုကန့်သတ်ထားရှိရန်၊

(ဂ) လူဝင်/လူထွက်စနစ်အားထိန်းချုပ်ထားရန်၊

(ဃ) ဝန်ထမ်းများအား မီးသတ်ပစ္စည်းကိရိယာများကိုင်တွယ်အသုံးပြုပုံနှင့် မီးငြိမ်းသတ်ရေး နည်းစနစ် များအား ကျွမ်းကျင်ပိုင်နိုင်စွာလေ့ကျင့်ထားရန်၊

(င) သိုလှောင်ကန်များတွင် မိုးကြိုးလွှဲတပ်ဆင်ထားရှိရန်၊

(စ) မီးသတ်ပစ္စည်းကိရိယာများအား သင့်တော်သည့်သတ်မှတ်အချိန်များတွင် စမ်းသပ်စစ်ဆေး ထိန်းသိမ်းမှုများ ပြုလုပ်ရန်၊

(ဆ) သိုလှောင်ကန်များနှင့်မီးသတ်ပစ္စည်းများ၏ Layout Plan ကို အရေးပေါ် အခြေအနေတွင် အသုံးပြုနိုင်ရန် အလွယ်တကူမြင်သာသောနေရာများ၌ ထားရှိရန်၊

(ဇ) သန္ဓေမီးသတ်တပ်ဖွဲ့ဝင်များ၊ ရေယာဉ်ဝန်ထမ်းများ၊ ဆိပ်ခံတံတားဝန်ထမ်းများနှင့် ဆိပ်ကမ်းအာဏာပိုင်မှ မီးသတ်သင်္ဘောများပူးပေါင်းဆောင်ရွက်သည့် မီးသတ်လေ့ကျင့်ခန်းများ (စက်မဲ့၊စက်ဖြင့်) ပူးပေါင်းလေ့ကျင့်ဆောင်ရွက်ရန်၊

(ဈ) တပ်ဆင်မည့် မီးဘေးလုံခြုံရေးဆိုင်ရာကိရိယာများအတွက် စံချိန်စံညွှန်းများအား မီးသတ်ဦးစီးဌာန ၏ သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန်။

(ည) ဆိပ်ခံတံတားများအနီး၊ အနီးဆုံးရေယူနိုင်သည့်နေရာများတွင် အုတ်ရေလှောင်ကန်များ တည်ဆောက်ထားရန် အလွယ်တကူ ရေရယူဖြည့်တင်းနိုင်ရေးအတွက် ရေစုပ်စက်များ မီးသတ်ရေပိုက်လိပ်များထားရှိရန်နှင့် မီးသတ်ရေပိုက်လိပ်များကို ရေဖိအားခံနိုင်သော အမျိုးအစားများဖြင့် ဝယ်ယူ ဖြည့်တင်းထားရှိရန်၊

(ဋ) ဆိပ်ခံတံတားများနှင့် ဆီအတင်အချတံတားများတွင် ရေရယူဖြည့်တင်းနိုင်ရေးအတွက် မီးသတ် ရေပိုက်ခေါင်း (Fire Hydrant)များထားရှိရန်။

(ဌ) ဆိပ်ခံတံတားများနှင့် စက်သုံးဆီသယ်ယူပို့ဆောင်ရေး ရေယာဉ်များတွင် မီးမလောင် စေရန်အတွက် မီးသတိမူရေးအချက်အလက်များ၊ မီးလောင်ပါက ကနဦးချက်ချင်းအရေးပေါ် မီးငြိမ်းသတ် နိုင်ရေးအစီအစဉ်များ၊ လိုအပ်သော မီးသတ်ဆေးဘူးများထားရှိရေးနှင့် မီးသတ်ဆေးဘူးများ အသုံးပြု၍ မီးငြိမ်းသတ်နည်းအပါအဝင် ရေယာဉ်ဝန်ထမ်းများ မီးဘေးကာကွယ်ရေး ဟောပြောပွဲများ၊ လက်တွေ့မီးငြိမ်းသတ်ရေး သရုပ်ပြပွဲများ ဇာတ်တိုက်လေ့ကျင့်ခန်းများ ပြုလုပ်လေ့ကျင့် ထားရှိရန်နှင့် ဆီမီးလောင်မှုများတွင် ငြိမ်းသတ်နိုင်ရေးအတွက်အမြှုပ်လုပ်မီးသတ်ဆေးရည်များ ဝယ်ယူဖြည့်တင်းထားရှိရန်

(ဍ) ဆိပ်ခံတံတားများအနီးနှင့် လမ်းဘေးတို့တွင်ရှိသော မြက်ခြောက်များ ခြုံနွယ်ပိတ်ပေါင်းများ နှင့်အပင်ငယ်များကို ခုတ်ထွင်ရှင်းလင်းထားရှိရန်။

(ပ) စက်သုံးဆီအတင်/အချတံတားများအနီးမသက်ဆိုင်သောယာဉ်၊လူ၊ ရေယာဉ်များ မကပ် နိုင်အောင် တားမြစ်နယ်မြေသတ်မှတ်၍ လုံခြုံရေးစီမံဆောင်ရွက်ထားရန်။

(ဏ) မီးလောင်မှုသတင်းကို အချိန်မီလျင်မြန်တိကျမှန်ကန်ရှင်းလင်းစွာဖြင့် ရရှိဆက်သွယ် နိုင်ရေးနှင့် အခြေအနေအချိန်အခါအလိုက် သတင်းများထပ်မံ ရရှိနိုင်ရေးအတွက် သတင်းပေးပို့မှုစနစ်ဆောင်ရွက် ထားရှိရန်

(တ) ရာသီဥတု၊ ပတ်ဝန်းကျင်အခြေအနေ၊ ခရမ်းလွန်ရောင်ခြည်၊ အငွေ့များအစရှိသည် များကြောင့် အလွယ်တကူ တိုက်စားနိုင်သော(သို့) အရည်အသွေးကျဆင်းစေသော မည်သည့်မီးငြိမ်းသတ်ရေး ပစ္စည်းကိရိယာမဆို အကာအရံများ (သို့) ကာကွယ်ရေး အစီအမံများဖြင့်ထားရှိရမည်ဖြစ်ပြီး ထားရှိသည့်ပစ္စည်းကိရိယာများ၏ အမျိုးအစားများကို အပြင်ဘက်တွင် ဖော်ပြထားရန်၊

(ထ) မီးငြိမ်းသတ်ရေး ပစ္စည်းကိရိယာများအားလုံးအား ခွဲခြားသိရှိနိုင်စေရန် အနီမှဲဆုံး အနီရောင် ဆေးသုတ်ထားရမည်။ မီးသတ်သမားများ ရှင်းလင်းစွာ မြင်နိုင်ရန်နှင့် အမျိုးအစားခွဲခြားနိုင်စေရန်သိုလှောင်ကန်များအားလုံး၏ အချက်အလက်ကိန်းဂဏန်း များကို အလွယ်တကူခွဲခြားသိနိုင်သည့်အရောင်ဖြင့် သိုလှောင်ကန်နံရံတွင် ဆေးသုတ် ဖော်ပြ ထားရှိရန်၊

Elite Petrochemical

ELITE PETROCHEMICAL COMPANY LIMITED

No. 5, Pyay Road, Hlaing Township, Yangon, Myanmar [illegible]

## လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေး အစီအစဉ်

“အထွတ်အထိပ် ရေနံဓါတု ကုမ္ပဏီလီမိတက်” **(Elite Petrochemical Co., Ltd.)** သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်အတွင်းရှိ၊ သီလဝါဆိပ်ကမ်းဒေသ၊ အမှတ်- ၁၅၊ ၁၆(အေ/ဘီ)တွင် **BOT** စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် ဆီသိုလှောင်ကန် များတည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းကို တည်ထောင်ဆောင်ရွက်မည်ဖြစ်ရာ လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သား သက်သာချောင်ချိရေး အစီအစဉ်ကို အောက်ပါအတိုင်း စီစဉ်ထားပါသည်။

၁။ လုပ်သားများအတွက် ဝန်ထမ်းအိမ်ယာများကို လိုအပ်သလို တည်ဆောက်ပေးထားမည်ဖြစ်ပြီး၊ အကြို/ အပို့ မော်တော်ယဉ်များလည်းစီစဉ်ပေးထားမည်ဖြစ်ပါသည်။

၂။ အလုပ်သမားများ ဗဟုသုတတိုးပွားစေရန် စာကြည့်တိုက်တစ်ခုဖွင့်လှစ်ပေးပါမည်။

၃။ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ပဏာမကုသမှု လုပ်ငန်းဆောင်ရွက်နိုင်ရန်ကျန်းမာရေး ဆေးခန်းကိုလည်း စီစဉ်ထားပါမည်။

၄။ ပတ်ဝန်းကျင်စိမ်းလန်းသာယာရေးအတွက် ပန်းခြံများ၊ သစ်ပင်များစိုက်ပျိုး၍ ပတ်ဝန်း ကျင်သာယာမှုရှိစေရန် ဆောင်ရွက်ပေးပါမည်။

၅။ အလုပ်သမား ထမင်းစားဆောင်ကိုလည်း တည်ဆောက်ပြီး ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးပါမည်။

၆။ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျှက် အလုံအလောက် တည် ဆောက်ထားရှိမည်ဖြစ်ပါသည်။

၇။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ စက်ရုံ ဝန်းကျင်သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ်မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန် အစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၈။ ပတ်ဝန်းကျင် ဆူညံခြင်းမရှိစေရန်နှင့် အလင်းရောင်၊ လေဝင်လေထွက် ကောင်းစေရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၉။ လုံခြုံရေးဂိတ်များထားရှိပြီး၊ စက်ရုံလုံခြုံရေး၊ ဝန်ထမ်းလုံခြုံရေး၊ မီးဘေးလုံခြုံရေးများ **စီစဉ်ထားရှိပါမည်။ အလုပ်သမားများကို** ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်စေပြီး၊ တည်ဆဲဥပဒေများကို လိုက်နာစေရန် စီစဉ်ဆောင်ရွက်ထားမည်ဖြစ်ပါသည်။

# JETTY FIREFIGHTING SYSTEM DIAGRAM






SOUTHEAST ASIA PETROLEUM ENGINEERING CO., LTD

| | | | |
|---|---|---|---|
| JETTY FIREFIGHTING SYSTEM DIAGRAM | | DETAIL | |
| | | NONE | |

C




Oil Storage Tank foundation